ကုမ္ပဏီအမည် - MKor Green Co., Ltd.

လုပ်ငန်း - Contract Farming စနစ်ဖြင့် ငှက်ပျောစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၁-၉-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေး ၂/၂၀၁၇ သို့ တင်ပြခြင်း | ၂၄-၁၀-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ | ၃၀-၁၀-၂၀၁၇ | | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၃၀-၁၀-၂၀၁၇ | | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၂၆-၁၀-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၄-၁၁-၂၀၁၇ | | |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၄/၂၀၁၇) ARIC | ၂၁-၁၁-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၆၀ ရက်** | | | |

MKor Green Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Farming စနစ်ဖြင့် ငှက်ပျောစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်ပြရန်လိုအပ်သည့်အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | MKor Green Co., Ltd. | Contract Farming စနစ်ဖြင့် ငှက်ပျော စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း | ၂/၂၀၁၇ (၂၄-၁၀-၂၀၁၇) | (က)မြေအသုံးပြုမှု ပြောင်းလဲခြင်း အတွက်သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ထောက်ခံချက် | ဆောင်ရွက် ဆဲ | |

အကြောင်းအရာ။ **MKor Green Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Farming စနစ်ဖြင့် ငှက်ပျောစိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - MKor Green Co., Ltd.<br>- Mr Park Yongkoo<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- ကိုရီးယားနိုင်ငံ MKorSnT. Inc. မှ ၈၀ %<br>- မြန်မာနိုင်ငံ Pilgreen Co., Ltd. မှ ၂၀ %<br>- Contract Farming စနစ်ဖြင့် ငှက်ပျောစိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ<br><br><br>Warehouse တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ပန်းတနော်မြို့နယ်၊ ကပိုင်ကျေးရွာနှင့် ကျုံတုံးကလေးကျေးရွာရှိတောင်သူများနှင့် Contract Farming စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။<br>- ဦးပိုင်အမှတ် (၅၈/၄ + ၆၃/၂)၊ ကွင်းအမှတ် (၅၁၈)၊ ကျုံတုံကလေးကျေးရွာအုပ်စု၊ ပန်းတနော်မြို့နယ်ရှိမြေဧရိယာ ၀.၉၃ ဧက (၃၇၆၃.၅၈ စတုရန်းမီတာ) |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်ခက်ပိုင်ကျော်<br>- မြေဧရိယာ ၀.၉၃ ဧက (၃,၇၆၃.၅၈ စတုရန်းမီတာ)<br>- တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၇၅၂၇ (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂ ဒေါ်လာနှုန်း)<br>- ကနဦးနှစ် ၁၀(သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | |
| ၇။ | အခြားတင်ပြချက် | (က) မူလမြေပိုင်ရှင် ဦးသန်းအေးနှင့် ဒေါ်ခက်ပိုင်ကျော် တို့ချုပ် |

| ၆။ စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | **US$** | **ညီမျှသော (ကျပ်သန်း)** | **ရာခိုင်နှုန်း** |
|---|---|---|---|
| (က)ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | ၀.၀၆၆ | ၉၀၀၀၀ | ၂၀ % |
| (ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | ၀.၂၆၄ | ၃၆၀၀၀၀ | ၈၀ % |
| **စုစုပေါင်း** | ၀.၃၃ | ၄၅၀၀၀၀ | - |

| | | |
|---|---|---|
| ၈။ | | ဆိုထားသည့် လယ်ယာမြေ နှစ်ဦးသဘောတူ အရောင်းအဝယ် စာချုပ်၊ ဒေါ်ခက်ပိုင်ကျော် နှင့် MKor Green Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ အကျိုးတူတောင်သူများနှင့် ချုပ်ဆိုမည့် အကျိုးတူလယ်ယာစနစ် (Contract Farming System)ဖြင့် ငှက်ပျောစိုက်ပျိုး ထုတ်လုပ်ခြင်း သဘောတူ ကတိစာချုပ် (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့ မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။<br>(ခ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကိုအောက်ပါအတိုင်းတင်ပြထားပါသည်-<br>**စုစုပေါင်း ၁၈ ဦး**<br>ပြည်တွင်း- ၁၈ ဦး(တစ်လလျှင် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။)<br>ပြည်ပ - ခန့်ထားခြင်းမရှိပါ။<br>(ဂ) ငွေကြေး အထောက်အထားအဖြစ် MKor Green Co., Ltd. အမည်ဖြင့် Shinhan Bank (Yangon Branch)တွင် (၁၈-၈-၂၀၁၇) ရက်နေ့၌ USD ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>(ဃ) ကုမ္ပဏီအနေဖြင့် နှစ်စဉ် အသားတင်အမြတ်၏ ၁ % ကို အောက်ပါ CSR လုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်-<br>ဝန်ထမ်းများ၏လုပ်ငန်းကျွမ်းကျင်မှုသင်တန်း ၀.၁ %<br>ဝန်ထမ်းများ၏ကျန်းမာရေးထောက်ပံ့ခြင်း ၀.၂ %<br>ဖွံ့ဖြိုးရေးအတွက် ၀.၂ %<br>ဒေသဖွံ့ဖြိုးရေးအတွက် ၀.၅ %<br>(င) ကုမ္ပဏီ၏ ပထမနှစ် ထုပ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်- |

| အကြောင်းအရာ | Qty | Sale Price (US$/Ton) |
|---|---|---|
| စိုက်ပျိုးမည့်မြေဧက(ဟက်တာ) | ၄၀ | - |
| ထွက်ရှိမည့်ပမာဏ(တန်)/ဟက်တာ | ၂၀ | - |
| ထုတ်လုပ်နိုင်မည့်ငှက်ပျော(တန်)/တစ်နှစ် | ၈၀၀ | ၅၀၇ |

| | | |
|---|---|---|
| ၉။ | **စိစစ်တင်ပြချက်** | (က)ကုမ္ပဏီအနေဖြင့် ငှက်ပျောစိုက်ပျိုးထုတ်လုပ်ပြီး ပြည်ပသို့ ၈၀ % တင်ပို့ရောင်းချ သွားမည်ဖြစ်ပြီး ပြည်တွင်း၌ ၂၀ % |

| | | |
|---|---|---|
| | | ရောင်းချသွားမည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်နိုင်သည့်လုပ်ငန်း ဖြစ်ကြောင်းစိစစ်ရပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရအပူပိုင်းနှင့် သမပိုင်းသစ်သီးပင်များ စိုက်ပျိုးခြင်း(ငှက်ပျော)သည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။<br>(ဃ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မအူပင်ခရိုင်၊ ပန်းတနော်မြို့နယ်သည် ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသည့် ဒေသဇုန် (၂) တွင် ပါဝင်ပါသည်။<br>(င) အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ၊ မြေအသုံးပြုခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြလျှောက်ထားခြင်းမရှိပါ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဖြစ်သဖြင့် မြေအသုံးပြုခွင့်လျှောက်ထားလွှာ တင်ပြပေးရန်လိုအပ်ပါသည်။<br>(စ) ပြည်ပမှ တင်သွင်းမည့်လုပ်ငန်းသုံးပစ္စည်း တင်ပြထားခြင်းမရှိပါ။<br>(ဆ) Warehouse အဖြစ်ဆောင်ရွက်မည့် ဦးပိုင်အမှတ် (၅၈/၄ + ၆၃/၂)၊ ကွင်းအမှတ် (၅၁၈)၊ ကျုံတုံကလေး ကျေးရွာအုပ်စု၊ ပန်းတနော်မြို့နယ်ရှိ မြေဧရိယာ ၀.၉၃ ကေအား ဒေါ်ခက်ပိုင်ကျော်အမည်ဖြင့် လယ်ယာမြေ အခြားနည်း အသုံးပြုခွင့်လျှောက်ထားဆဲဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ဇ) ဧရာဝတီတိုင်း ဒေသကြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ (Environmental Management Plan EMP) ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။<br>(ဈ) မြေအသုံးချမှု ပြောင်းလဲခြင်းအတွက် သက်ဆိုင်ရာဌာနအဖွဲ့အစည်း၏သဘောထားမှတ်ချက်လိုအပ်ပါသည်။ |




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ဧရက/အ-၀၁၂(စ)/ရင်း(၁)/၂၀၁၇(၀၉၄)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၂၄ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **MKor Green Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Farming စနစ်ဖြင့် ငှက်ပျော စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ MKor SnT. Inc. မှ ၈၀ % နှင့် မြန်မာနိုင်ငံ Pilgreen Co., Ltd. မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် MKor Green Co., Ltd. တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ပန်းတနော်မြို့နယ်၊ ကျုံတုံကလေးကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၅၈/၄ + ၆၃/၂)၊ ကွင်းအမှတ် (၅၁၈)၊ ရှိမြေဧရိယာ ၀.၉၃ ဧက (၃၇၆၃.၅၈ စတုရန်းမီတာ)တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Farming စနစ်ဖြင့် ငှက်ပျော စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ တင်ပြလာပါသည်။

၂။ မူလမြေပိုင်ရှင် ဦးသန်းအေးနှင့် ဒေါ်ခက်ပိုင်ကျော်တို့ချုပ် ဆိုထားသည့် လယ်ယာမြေ နှစ်ဦးသဘောတူ အရောင်းအဝယ်စာချုပ်၊ ဒေါ်ခက်ပိုင်ကျော် နှင့် MKor Green Co., Ltd. တို့ ချုပ်ဆိုမည့်မြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ အကျိုးတူတောင်သူများနှင့်ချုပ်ဆို မည့် အကျိုးတူလယ်ယာစနစ် (Contract Farming System)ဖြင့် ငှက်ပျောစိုက်ပျိုးထုတ်လုပ် ခြင်းသဘောတူကတိစာချုပ်(မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်းသင်းဖွဲ့ မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ ဧရာဝတီတိုင်းဒေသကြီး၊ ပန်းတနော်မြို့နယ်၊ ကျုံတုံကလေးကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၅၈/၄ + ၆၃/၂)၊ ကွင်းအမှတ် (၅၁၈)၊ ရှိမြေဧရိယာ ၀.၉၃ ဧက (၃၇၆၃.၅၈ စတုရန်းမီတာ)အား (၁၀)နှစ်(သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပြီး နှစ်ဦးသဘောတူစာချုပ်အရ မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၇၅၂၇ (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂ ဒေါ်လာနှုန်း) ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာကနဦး ၁၀ နှစ် နှင့် ၁၀ နှစ် (တစ်ကြိမ်) သက်တမ်း တိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၁.၃၂၉ သန်း ဖြစ်၍ အောက်ပါအတိုင်းထည့်ဝင်မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **US$(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၁.၀၆၆ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | ၀.၂၆၄ |
| **စုစုပေါင်း** | ၁.၃၃ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၈)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၇။ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ပန်းတနော်မြို့နယ်၊ ကပိုင် ကျေးရွာနှင့် ကျုံတုံးကလေးကျေးရွာရှိတောင်သူများနှင့် Contract Farming စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ပထမနှစ်ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (တန်) | ရောင်းချမည့် ဈေးနှုန်းUSD/ တန် |
|---|---|---|---|
| (က) | ငှက်ပျော | ၈၀၀ | ၅၀၇ |

၈။ ကုမ္ပဏီနေဖြင့် ပြည်တွင်း၌ ၂၀ % ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၈၀ % တင်ပို့သွားမည်ဖြစ်ပြီး နှစ်အလိုက် အောက်ပါအတိုင်း ငှက်ပျောစိုက်ပျိုး ထုတ်လုပ်သွားမည်ဖြစ် ကြောင်း ခန့်မှန်း တင်ပြထားပါသည်-

| အကြောင်းအရာ | စီမံကိန်းအဆင့် (၁) | | | | |
|---|---|---|---|---|---|
| | ၂၀၁၈ ခုနှစ် | ၂၀၁၉ ခုနှစ် | ၂၀၂၀ ခုနှစ် | ၂၀၂၁ ခုနှစ် | ၂၀၂၂ ခုနှစ် |
| စိုက်ပျိုးမည့်မြေကေ(ဟက်တာ) | ၄၀ | ၈၀ | ၁၂၀ | ၂၄၀ | ၂၄၀ |
| ထွက်ရှိမည့်ပမာဏ(တန်)/ဟက်တာ | ၂၀ | ၂၀ | ၂၀ | ၂၀ | ၂၀ |
| ထုတ်လုပ်နိုင်မည့်ငှက်ပျော (တန်)/တစ်နှစ် | ၈၀၀ | ၁၆၀၀ | ၂၄၀၀ | ၄၈၀၀ | ၄၈၀၀ |

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သဘောထားမှတ်ချက်ပြန်ကြားလာခြင်း မရှိသေးပါ။

(ခ) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ရာသီဉတု ပြောင်းလဲမှုဆိုင်ရာကြီးကြပ်မှုကော်မတီမှ** အဆိုပြုလုပ်ငန်း/စီမံကိန်းအနေဖြင့် ငှက်ပျော စိုက်ခင်းထုတ်လုပ်တင်ပို့မည့် Contract Farming ဖြစ်သဖြင့် ပတ်ဝန်းကျင်ထိခိုက် မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း (Environmental Impact Assessment Procedure-EIA Procedure) အရ လုပ်ငန်း ဆောင်ရွက်မည့်

ဧရိယာအရွယ်အစားပေါ်မူတည်၍ ထိခိုက်မှုဆန်းစစ်ခြင်းအမျိုးအစား သတ်မှတ်လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ သာမန်ထုတ်ပိုးမှုလုပ်ငန်းသာ ဆောင်ရွက်မည့် အဆောက်အဦနှင့်ပတ်သက်၍ သဘောထားမှတ် ချက်ပြန်ကြားပေးရန် မရှိသေးပါကြောင်းနှင့် လုပ်ငန်း/စီမံကိန်းနှင့် ပတ်သက်၍ မစတင်မီဒေသနေပြည်သူအား စီမံကိန်းဆိုင်ရာ ရှင်းလင်းပြောကြားခြင်းအနေဖြင့် ဆောင်ရွက်ရမည်ဖြစ်ပြီး (Environmental Management Plan EMP) ဆောင်ရွက် ရမည်ဖြစ်ကြောင်း၊ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် ဆောင်ရွက်သင့်ပါကြောင်းမှတ်ချက်ပြုထားပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် MKor Green Co., Ltd. အမည်ဖြင့် Shinhan Bank (Yangon Branch) တွင် (၁၈-၈-၂၀၁၇) ရက်နေ့၌ USD ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ MKor Green Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံ ဆောင်ရွက်မည့်အစီအစဉ်၊ CSR အစီအစဉ်များကိုတင်ပြထားပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းစာရင်း၊ နိုင်ငံခြားသားက ဆောင်ရွက်ခွင့် မရှိသည့်လုပ်ငန်းစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏အတည်ပြုချက်ဖြင့်ဆောင်ရွက်ရမည့်လုပ်ငန်းများစာရင်းတွင်ပါဝင်ခြင်းမရှိပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်နိုင်သည့်လုပ်ငန်းအမျိုးအစားဖြစ်ကြောင်းစိစစ်ရပါသည်။

(ခ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရအပူပိုင်းနှင့်သမပိုင်းသစ်သီးပင်များ စိုက်ပျိုးခြင်း(ငှက်ပျော)သည် ဦးစားပေး မြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင်ပါဝင်ပြီး မအူပင်ခရိုင်၊ ပန်းတနော်မြို့နယ်သည် ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသည့် ဒေသဇုန် (၂) တွင်ပါဝင်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေ ၀.၉၃ ဧကနှင့်စပ်လျဉ်း၍ မြို့နယ်/ခရိုင်/တိုင်းလယ်ယာ မြေစီမံခန့်ခွဲရေးကော်မတီသို့ အဆင့်ဆင့် တင်ပြလျှောက်ထားဆဲဖြစ်ကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အမိန့်ကြော်ငြာစာ ၂၅/၂၀၁၇ အပိုဒ် ၂၉ နှင့် ၃၀ (က)အရ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် မြေအသုံးပြုမှု ပြောင်းလဲခြင်းအတွက်

သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ထောက်ခံချက်ဖြင့်ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ၊ မြေအသုံးပြုခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြလျှောက်ထားခြင်းမရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၃။ Mkor Green Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပန်းတနော်မြို့နယ်၊ ကျုံတုံကလေး ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၅၈/၄ + ၆၃/၂)၊ ကွင်းအမှတ် (၅၁၈)၊ ရှိမြေဧရိယာ ၀.၉၃ ဧက (၃၇၆၃.၅၈ စတုရန်းမီတာ)တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Farming စနစ်ဖြင့် ငှက်ပျော စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ/မတူ။

14/11/2017

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ